

ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၇၂........ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီ လ ၁၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ............ ဦးအောင်မင်း

(ခ) အဘအမည် ............ ဦးသွယ်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ............ ၇/ပစန (နိုင်) ၀၀၇၇၁၆

(ဃ) နေရပ်လိပ်စာ ............ အမှတ် (၁၀ – ခ)၊ အခန်း (၁၀၁)၊ ရွှေကမ္ဘာအိမ်ရာစီမံကိန်း မင်းဓမ္မလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ............ မြဝတီနှင့်ရွှေတောင်ကုန်းအပြည်ပြည်ဆိုင်ရာလီမိတက် ( Myawaddy and Golden Hill International Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ............ စီးကရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ............ အမှတ် (၄၉)၊ မယ်ဇီကုန်းလမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ............ ၁၂၀၀၀.၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၀.၈၃) သန်းအပါအဝင် စုစုပေါင်း ကျပ် တစ်သောင်းနှစ်ထောင်သန်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁ /၂၀၁၁ (မနသ)
နေပြည်တော်၊ ၁၃၇၂ ခုနှစ် ပြာသိုလဆန်း ၈ ရက်
(၂၀၁၁ ခုနှစ် ၊ ဇန်နဝါရီလ ၁၂ ရက်)

၁။ မြဝတီထရေးဒင်း လီမိတက်မှ (၄၀%) နှင့် မြန်မာကုမ္ပဏီ ဖြစ်သော ရွှေတောင်ကုန်း ၂၀၀၅ ကုမ္ပဏီလီမိတက်မှ (၆၀%) တို့ ဖက်စပ်ပြုလျှက် မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊မယ်ဇီကုန်းလမ်း၊ အမှတ်(၄၉)ရှိ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်ပိုင် မြေနှင့် အဆောက်အဦ(ယခင် အမှတ်(၁) စီးကရက်စက်ရုံ) ကို ငှားရမ်း၍ စီးကရက်ထုတ်လုပ်ခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား(၁၄-၅-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင် မှ စိစစ်ခဲ့ပြီး (၁၀-၁၁-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၄/၂၀၁၀) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီ ချက်အရ (၃၀-၁၂-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ (၅၀/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြု ကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) အား စီးကရက်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၇၂ /၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့်အညီ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ

လျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ခြင်းမှ နိုင်ငံခြားငွေ ဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေ ခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေ ကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်

တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ကိုယ်ပိုင်နိုင်ငံခြားငွေ၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy - back System)၊ စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ (FCEC)သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် <u>ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ</u> အဖြစ် ထားရှိ ဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၅။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) သည် ဤ အဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိ ရမည်။

၆။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည်ဆိုင်ရာ လီမိတက်(Myawaddy and Golden Hill International Ltd.)၏ ဤခွင့်ပြုမိန့်အရ ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ (၀.၈၃)သန်း အပါအဝင် ကျပ် (၁၂၀၀၀.၀၀)သန်း ဖြစ်သည့် အတွက် ကုမ္ပဏီ ၏ ခွင့်ပြု မတည်ငွေရင်း

(Authorized Capital) တိုးမြှင့်ခြင်းကို ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနတွင် လျှောက်ထားဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ မြဝတီထရေးဒင်း လီမိတက် နှင့် ရွှေတောင်ကုန်း ၂၀၀၅ ကုမ္ပဏီလီမိတက် တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော ဖက်စပ်သဘောတူ စာချုပ်ပါ စည်းမျဉ်း စည်းကမ်းအတိုင်း လိုက်နာဆောင်ရွက်ရမည်။ ဖက်စပ် သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅) စောင်ကို ဤ ကော်မရှင် သို့ <u>မပျက်မကွက်</u> ပေးပို့တင်ပြရမည်။

၉။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက် နှင့် အငှားချထားခြင်း ခံရသူ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည်ဆိုင်ရာ လီမိတက်တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၀။ မြဝတီနှင့်ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) ၏ ဖက်စပ်စာချုပ် သက်တမ်းမှာ ပထမအကြိမ် (၁၅)နှစ် နှင့် ဒုတိယ အကြိမ် (၁၅)နှစ် ဖြစ်ပါသည်။

၁၁။ မြဝတီနှင့်ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.)သည် ဖက်စပ်ကုမ္ပဏီမှ ထုတ်လုပ်သော စီးကရက်နှင့် ကုန်ချောပစ္စည်း များကို မြဝတီက (၄၀%)နှင့် ရွှေတောင်ကုန်း ကုမ္ပဏီက (၆၀%) အချိုးအတိုင်း ခွဲ၍ ပြည်တွင်း ပြည်ပ သို့ ဖြန့်ဖြူး ရောင်းချရမည် ဖြစ်ပါသည်။

၁၂။ မြဝတီနှင့်ရွှေတောင်ကုန်း အပြည်ပြည်ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.)သည် ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာများ ခန့်ထားရာတွင် မြဝတီထရေးဒင်းမှ (၃)ဦး၊ ရွှေတောင်ကုန်းမှ (၅)ဦး ဖြင့် စုစုပေါင်း ဒါရိုက်တာ (၈)ဦး ပါဝင်ပြီး ဥက္ကဋ္ဌ တာဝန် ကို မြဝတီမှ ဒါရိုက်တာ တစ်ဦးနှင့် ဒုတိယ ဥက္ကဋ္ဌ တာဝန်ကို ရွှေတောင်ကုန်း လီမိတက်မှ ဒါရိုက်တာ တစ်ဦးအား တာဝန်ပေးရမည် ဖြစ်ပါသည်။

၁၃။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင် သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထား ရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက် ရမည်။

၁၄။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ် ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၆။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရ မည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယား များဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ မြဝတီနှင့် ရွှေတောင်ကုန်း အပြည်ပြည် ဆိုင်ရာ လီမိတက် (Myawaddy and Golden Hill International Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅( င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၆၅/၂၀၁၁ ( ၃၉၃ )၊

ရက် စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဇန်နဝါရီ လ ၁၂ ရက် ။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ စာရင်းစစ်ချုပ်ရုံး။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက်။

၇။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၉။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၀။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၂။ အလုပ်သမား ဝန်ကြီးဌာန။

၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၄။ ဥက္ကဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအား ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၇။ ဥက္ကဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၈။ အုပ်ချုပ်မှုဒါရိုက်တာ၊ မြဝတီနှင့်ရွှေတောင်ကုန်း အပြည်ပြည်ဆိုင်ရာ လီမိတက်
(Myawaddy and Golden Hill International Ltd.)